**ကုမ္ပဏီအမည်** - **Timberland Plantation Investment Company Limited**

**လုပ်ငန်း** - **အကေးရှား (မန်ကျန်ရှား)၊ အကေးရှား (အော်ရီရှား) နှင့် ယမနေ သစ်များ စိုက်ပျိုး ထုတ်လုပ် ရောင်းချခြင်းလုပ်ငန်း**

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာ လက်ခံရရှိခြင်း | ၁၈-၁၂-၂၀၁၆ | | |
| ၂ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး (၄၈/၂၀၁၆) သို့ တင်ပြခြင်း | ၂၆-၁၂-၂၀၁၆ | | |
| ၃ | အဆိုပြုလွှာလက်ခံကြောင်းစာ ပေးပို့ခြင်း | ၉-၁-၂၀၁၇ | | |
| ၄ | သဘောထားမှတ်ချက် တောင်းခံခြင်း<br>(က) ရေဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့<br>ပထမအကြိမ်<br>ဒုတိယအကြိမ်<br><br>(ခ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန | <br><br>၃၀-၁၂-၂၀၁၆<br>၃၁-၁-၂၀၁၇<br><br>၃၀-၁၂-၂၀၁၆ | <br><br>၂၁-၂-၂၀၁၇<br>၂၀-၃-၂၀၁၇<br><br>၁၃-၁-၂၀၁၇ | |
| ၅ | မြေအသုံးပြုခွင့် တင်ပြခြင်း<br>(က) ကော်မရှင်အစည်းအဝေး ( )သို့တင်ပြခြင်း<br>(ခ) ပြည်ထောင်စုအစိုးအဖွဲ့၏ ( )သို့တင်ပြခြင်း | | | သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၊ သစ်တောဦးစီးဌာနပိုင်မြေအားငှားရမ်းဆောင်ရွက်ခြင်းဖြစ်ပါသည်။ |
| ၆ | MIC သို့ တင်ပြရန် ကုမ္ပဏီမှ အဆိုပြုလွှာ (၁၀)စုံ လက်ခံရရှိ | | | |
| ၇ | **စုစုပေါင်း ကြာမြင့်ရက်** | ၁၀၁ ရက် | | |

ကုမ္ပဏီအမည် - Timberland Plantation Investment Company Limited
အဖွဲ့အစည်းပုံသဏ္ဌာန် - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု
လုပ်ငန်းအမျိုးအစား - အကေးရှား (မန်ဂျန်ရှား)၊ အကေးရှား (အော်ရီရှား) နှင့် ယမနေ သစ်များ စိုက်ပျိုး ထုတ်လုပ် ရောင်းချခြင်းလုပ်ငန်း
တည်နေရာ - တင်ဒါလုပ်ကွက်အမှတ် ၆၉၊ အကွက်အမှတ်-(၄၄၊ ၄၅၊ ၄၆၊ ၅၁၊ ၅၄)၊ ကျောက်ချောင်းကြီးကြိုးဝိုင်း၊ ပုသိမ်မြို့နယ်၊ ပုသိမ်ခရိုင်၊ ဧရာဝတီတိုင်းဒေသကြီး ရှိ မြေ ဧရိယာ (၂၇၂၇) ဧက တင်ဒါလုပ်ကွက်အမှတ် ၇၇၊ အကွက်အမှတ်-(၂၇၊ ၂၈၊ ၃၀၊ ၃၁၊ ၃၂) ကျောက်ချောင်းကြီး ကြိုးဝိုင်း၊ သာပေါင်းမြို့နယ်၊ ပုသိမ်ခရိုင်၊ ဧရာဝတီတိုင်းဒေသကြီးရှိ မြေဧရိယာ (၂၂၈၃) ဧက၊ စုစုပေါင်း မြေဧရိယာ ၅၀၁၀ ဧက
စုစုပေါင်းရင်းနှီးမြှုပ်နှံမှု - အမေရိကန်ဒေါ်လာ ၃.၈၀၉ သန်း
လုပ်ငန်းသက်တမ်း - ကနဦး (၃၀)နှစ် နှင့် သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ်
အရင်းကြေကာလ - ၈ နှစ် ၅လ
IRR - ၁၈.၇၃%

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit (ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်းလစာ(တစ်နှစ်) | ၂.၁၆၀ | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | | ၀.၆၆၅ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ၁၁.၀၁၆ | - |
| ၄ | ဝင်ငွေခွန် | ၄၆၉.၂၀၀ | ၅၂၇.၇၆၂ |
| ၅ | ကုန်သွယ်လုပ်ငန်းခွန် | - | ၁၆၀၅.၆ |
| ၆ | လျှပ်စစ်မီးသုံးစွဲခ | - | ၆၀.၀၀၀ |
| ၇ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | - | ဝင်ငွေခွန်ဥပဒေအတိုင်းထမ်းဆောင်ပါမည်။ |
| ၈ | CSR (၂%) | | ၃၁.၆၆၅ |
| ၉ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်းဝန်ထမ်း ၂၂ဦး အလုပ်အကိုင်ရရှိမည် ဖြစ် ပါသည်။ |
| ၁၀ | စုစုပေါင်း | ၄၈၂.၃၇၆ | ၂၂၂၅.၆၉၂ |
| ၁၁ | Cost : Benefit | ၁ : ၅ | |

ကန့်သတ်

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Timberland Plantation Investment Company Limited မှ အကေးရှား (မန်ကျန်ရှား)၊ အကေးရှား (အော်ရီရှား)နှင့် ယမနေသစ်များ စိုက်ပျိုး ထုတ်လုပ် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန်အဆိုပြု တင်ပြ လာခြင်းကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ | - Timberland Plantation Investment Co., Ltd. |
| | ကမကထပြုသူ | ဦးဇော်ဝင်း |
| | အဖွဲ့အစည်းပုံသဏ္ဍာန် | - ဖက်စပ်ရင်းနှီးမြှုပ်နှံမှု<br>Global Greeneries Pte. Ltd. ၆၅ % (စင်ကာပူ)<br>Integrated Technical Systems Co., Ltd. ၁၇.၅ % (မြန်မာ)<br>Nay Wun Myat Co., Ltd. ၁၇.၅ % (မြန်မာ) |
| | လုပ်ငန်းအမျိုးအစား | - အကေးရှား (မန်ကျန်ရှား)၊ အကေးရှား (အော်ရီရှား) နှင့် ယမနေ သစ်များ စိုက်ပျိုးထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - တင်ဒါလုပ်ကွက်အမှတ် ၆၉၊ အကွက်အမှတ်- (၄၄၊ ၄၅၊ ၄၆၊ ၅၁၊ ၅၄)၊ ကျောက်ချောင်းကြီးကြိုးဝိုင်း၊ ပုသိမ်မြို့နယ်၊ ပုသိမ်ခရိုင်၊ ဧရာဝတီတိုင်းဒေသကြီး။<br>- တင်ဒါလုပ်ကွက်အမှတ် ၇၇၊ အကွက်အမှတ်- (၂၇၊ ၂၈၊ ၃၀၊ ၃၁၊ ၃၂)ကျောက်ချောင်းကြီးကြိုးဝိုင်း၊ သာပေါင်းမြို့နယ်၊ ပုသိမ်ခရိုင်၊ ဧရာဝတီတိုင်းဒေသကြီး။ |
| | မြေပိုင်ရှင် | - သစ်တောဦးစီးဌာန၊ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာန |
| | မြေအကျယ်အဝန်း | - စုစုပေါင်းဧရိယာ ၅၀၁၀ ဧက၊ (၁၀,၁၁၇.၁၅ စတုရန်းမီတာ)<br>တင်ဒါလုပ်ကွက်အမှတ် ၆၉ ရှိ မြေ - ၂၇၂၇ ဧက<br>တင်ဒါလုပ်ကွက်အမှတ် ၇၇ ရှိ မြေ - ၂၂၈၃ ဧက |
| ၃။ | မြေ အသုံးချမှုပရီမီယံကြေး | - တင်ဒါလုပ်ကွက်အမှတ် ၆၉ ရှိ မြေ ၂၇၂၇ ဧက အတွက်<br>တစ် ဧက - ကျပ် ၃၀၀၀၀<br>စုစုပေါင်း ၂၇၂၇ ဧက - ကျပ် ၈၁.၈၁ သန်း<br>- တင်ဒါလုပ်ကွက်အမှတ် ၇၇ ရှိ မြေ ၂၂၈၃ ဧက အတွက်<br>တစ် ဧက - ကျပ် ၃၀၀၀၀<br>စုစုပေါင်း ၂၂၈၃ ဧက - ကျပ် ၆၈.၄၉ သန်း |

| | | |
|---|---|---|
| | မြေငှားရမ်းခနှုန်း | -တင်ဒါလုပ်ကွက်အမှတ် ၆၉ ရှိ မြေ ၂၇၂၇ ဧက အတွက်<br>တစ် ဧက - ကျပ် ၄၀၀၀<br>နှစ်စဉ်မြေငှားရမ်းခ - ကျပ် ၁၀.၉၀၈ သန်း<br>- တင်ဒါလုပ်ကွက်အမှတ် ၇၇ ရှိ မြေ ၂၂၈၃ ဧက အတွက်<br>တစ် ဧက - ကျပ် ၄၀၀၀<br>နှစ်စဉ်မြေငှားရမ်းခ - ကျပ် ၉.၁၃၂ သန်း |
| | မြေငှားရမ်းကာလ | - ၃၀ နှစ် ၁၀ နှစ် ၂ ကြိမ် |
| ၄။ | လုပ်ငန်းသက်တမ်း | - ၃၀ နှစ်နှင့် သက်တမ်းတိုး ၁၀နှစ် ၂ကြိမ် |
| | တည်ဆောက်ရေးကာလ | - ၄ နှစ် |
| ၅။ | စုစုပေါင်းမတည်ငွေရင်းပမာဏ | **US$ ၃.၈၀၉ သန်း** |

| | ပြည်တွင်း (US$ သန်း) | ပြည်ပ (US$ သန်း) | စုစုပေါင်း (US$ သန်း: |
|---|---|---|---|
| ငွေသား | ၀.၀၆၀ | ၀.၄၀၀ | ၀.၄၆၀ |
| စိုက်ပျိုးရေးကုန်ကျစရိတ် | ၀.၅၆၉ | ၁.၈၆၃ | ၂.၄၃၂ |
| စက်အပိုပစ္စည်း | - | ၀.၀၂၅ | ၀.၀၂၅ |
| လုပ်ငန်းသုံးယာဉ် | - | ၀.၃၄၀ | ၀.၃၄၀ |
| ရုံးသုံးပစ္စည်း | - | ၀.၀၀၆ | ၀.၀၀၆ |
| ကုန်ကြမ်း | - | ၀.၀၄၂ | ၀.၀၄၂ |
| မြေငှားရမ်းခ | ၀.၆၇၈ | - | ၀.၆၇၈ |
| အဆောက်အဦ | ၀.၀၂၆ | - | ၀.၀၂၆ |
| **စုစုပေါင်း** | ၁.၃၃၃ | ၂.၄၇၆ | ၃.၈၀၉ |

| | | |
|---|---|---|
| ၆။ | ဝန်ထမ်းအင်အား | - **၂၈၇ ဦး** |
| | ပြည်တွင်း | - ၂၈၇ ဦး(ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာ ၁၁၀,၀၀၀ ကျပ်နှင့် အမြင့်ဆုံးလစာ ၅၀၀,၀၀၀ကျပ်) |
| | ပြည်ပ | - မရှိပါ။ |
| ၇။ | ရောင်းချမည့်စနစ် | ပြည်တွင်း ၁၀၀% ရောင်းချမည်ဖြစ်ပါသည်။ |



D:\Proposal File\Timberland Plantation Investment\MIC\MIC -Memo.doc

| | | |
|---|---|---|
| ၈။ | နှစ်စဉ်ထုတ်လုပ်မှု ပုံမှန်နှစ် (ပြည်တွင်းရောင်း) | အမျိုးအစား / ထုတ်လုပ်မှု (Hoppus/Ton) / ရောင်းဈေးနှုန်း (US$/Ton)<br>အကေးရှား (မန်ကျန်ရှား) / ၃၀၃၃၂ / ၁၅၀.၀၀<br>အကေးရှား (အော်ရီရှား) / ၁၇၄၈ / ၁၅၀.၀၀<br>ယမနေသစ် / ၃၅၆၉ / ၁၅၀.၀၀ |
| ၉။ | ဝင်ငွေ(ဆဋ္ဌမနှစ်မြောက်) | - အမေရိကန်ဒေါ်လာ ၅.၃၅၂ သန်း |
| | အသုံးစရိတ် | - အမေရိကန်ဒေါ်လာ ၄.၀၃၃ သန်း |
| | အသားတင်အမြတ် (ဆဋ္ဌမနှစ်မြောက်) | - အမေရိကန်ဒေါ်လာ ၁.၃၁၉ သန်း |
| | CSR ၂ % | - အမေရိကန်ဒေါ်လာ ၀.၀၂၆ သန်း |
| ၁၀။ | နိုင်ငံတော်မှရရှိမည့် အကျိုးအမြတ် | |
| | ဝင်ငွေခွန် | - အမေရိကန်ဒေါ်လာ ၀.၄၃၉ သန်း |
| | ကုန်သွယ်လုပ်ငန်းခွန် | - အမေရိကန်ဒေါ်လာ ၁.၃၃၈ သန်း |
| | အရင်းကြေကာလ | - ၈ နှစ် ၅ လ |
| | အရင်းအနှီးအပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) | - ၁၈.၇၃ % |
| ၁၁၈။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု (နှစ်စဉ်) | - ၇၀၀ kWh |
| ၁၂။ | အခြားတင်ပြချက် | - Timberland Plantation Investment Co., Ltd. ၏ MOA, AOA (မူကြမ်း) တင်ပြထားပါသည်။<br>- ဒါရိုက်တာအဖွဲ့ဝင်များ၏ မှတ်ပုံတင်မိတ္တူနှင့် နိုင်ငံကူးလက်မှတ်မိတ္တူများ တင်ပြထားပါသည်။<br>- Timberland Plantation Investment Co., Ltd.မှ မီးဘေးကာကွယ်ရေး အစီအစဉ်၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သန့်ရှင်းသာယာရေး စီမံချက်၊ ဝန်ထမ်းသက်သာချောင်ချိရေးစီမံချက်၊ လစာခွန် ပေးဆောင်မည်ဖြစ်ကြောင်း ဝန်ခံ ကတိပြုခြင်းတို့ အား တင်ပြ ထားပါသည်။ |

| | | |
|---|---|---|
| | | - မြေပိုင်ရှင် သစ်တော ဦးစီးဌာနနှင့် Nay Wun Myat တို့ကြား ပုဂ္ဂလိကသစ်တောစိုက်ခင်း တည်ထောင်ရန် တင်ဒါလုပ်ကွက် အမှတ် ၆၉ ရှိ သစ်တောမြေ ၂၇၂၇ ဧကအား ငှားရမ်းသည့် နှစ်ရှည် မြေငှားရမ်းခြင်း နှစ်ဘက်သဘောတူ စာချုပ်နှင့် သစ်တောဦးစီးဌာနနှင့် Integrated Technical Systems Co.,Ltd.တို့ကြား ပုဂ္ဂလိက သစ်တောစိုက်ခင်း တည်ထောင်ရန် တင်ဒါလုပ်ကွက်အမှတ် ၇၇ ရှိ သစ်တော မြေ ၂၂၈၃ ဧကအား ငှားရမ်းသည့် နှစ်ရှည် မြေငှားရမ်းခြင်း နှစ်ဘက်သဘောတူ စာချုပ် တို့ကို တင်ပြထားပါသည်။<br>- Timberland Plantation Investment Co., Ltd. တည်ထောင်၍ လုပ်ငန်းဆောင်ရွက်ရန် အတွက် Global Greeneries Pte. Ltd.၊ Integrated Technical Systems နှင့် Nay Wun Myat Co., Ltd. တို့ကြား ချုပ်ဆိုမည့် ဖက်စပ် စာချုပ် (မူကြမ်း) တင်ပြထားပါသည်။<br>- ငွေကြေးအထောက်အထားအဖြစ် စင်္ကာပူနိုင်ငံ Oversea-Chinese Banking Corporation Limited Bank တွင် Global Greeneries Pte. Ltd. အမည်ဖြင့် ၂၃-၁၁-၂၀၁၆ ရက်နေ့တွင် US$ ၇၀၇,၇၆၇.၄၉၊ ဧရာဝတီဘဏ်တွင် Nay Wun Myat Co.,Ltd. အမည်ဖြင့် ၂၂-၁၂-၂၀၁၆ ရက်နေ့ရက်စွဲဖြင့် ကျပ် ၅,၀၀၆,၈၇၅၊ ကမ္ဘောဇဘဏ်တွင် Integrated Technical Systems Co.,Ltd. အမည်ဖြင့် ၄-၁၁-၂၀၁၆ ရက်စွဲဖြင့် ကျပ် ၂၇၄၆၆၃၅၀၀ ရှိကြောင်း တင်ပြ ထားပါ သည်။<br>- စီမံကိန်းဧရိယာတည်နေရာပြမြေပုံ နှင့် Layout Plan များနှင့် လက်ရှိ စိုက်ပျိုးထားရှိမှုအခြေအနေ တို့ကိုတင်ပြထား ပါသည်။<br>- မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်၊ လုပ်ငန်းခွင်သာယာ ရေးနှင့်ဝန်ထမ်း သက်သာချောင်ချိရေး စီမံချက်၊ ပတ်ဝန်း ကျင် ထိန်းသိမ်းစောင့်ရှောက်မည်ဖြစ်ကြောင်း ကတိဝန် ခံချက်၊ အလုပ်သမားများ လစာအပေါ်ဝင်ငွေခွန်ပေးဆောင် မည်ဖြစ်ကြောင်း ဝန်ခံကတိပြုစာ၊ အခွန်ကင်း လွတ်ခွင့် နှင့် သက်သာ ခွင့်များလျှောက်ထားချက် နှင့်CSR ဆောင်ရွက် မည့် အစီအစဉ်တို့ကို တင်ပြထားပါသည်။ |

| | | |
|---|---|---|
| ၁၃။ | စိစစ်တင်ပြချက် | - သစ်တော ဦးစီးဌာနနှင့် Nay Wun Myat တို့ကြားချုပ်ဆိုထားသည့် ပုဂ္ဂလိက သစ်တောစိုက်ခင်း တည်ထောင်ရန် သစ်တော မြေအား ငှားရမ်း သည့် နှစ်ရှည် မြေငှားရမ်းခြင်း နှစ်ဘက် သဘောတူစာချုပ် အပိုဒ် ၁၃-၁(ဃ) နှင့် သစ်တော ဦးစီးဌာနနှင့် Integrated Technical Systems Co.,Ltd. တို့ကြား ချုပ်ဆိုထားသည့် ပုဂ္ဂလိက သစ်တောစိုက်ခင်း တည်ထောင်ရန် သစ်တောမြေအား ငှားရမ်းသည့် နှစ်ရှည် မြေငှားရမ်းခြင်း နှစ်ဘက် သဘောတူ စာချုပ် အပိုဒ် ၁၃-၁ (ဃ)တို့တွင် "ခွင့်ပြုမိန့်ဖြင့် ငှားရမ်း လုပ်ကိုင်ခွင့်ပြုထားသော မြေကို စာချုပ် သက်တမ်း ကာလအတွင်း ထိုလုပ်ငန်းအတွက် အခြားပုဂ္ဂိုလ်တစ်ဦးဦးအား တစ်ဆင့်ငှားရမ်းခြင်း၊ ပေါင်နှံခြင်း၊ အစုရှယ်ယာ လွှဲပြောင်းခြင်းနှင့် လုပ်ငန်းလွှဲပြောင်းခြင်း တို့ကို သစ်တောဦးစီးဌာန၏ ကြိုတင်သဘောတူညီချက် ရယူ၍ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ဖြင့် ဆောင်ရွက်ရမည်" ဟုဖော်ပြပါရှိပါသည်။<br>- ပုဂ္ဂလိက သစ်တောစိုက်ခင်း တည်ထောင်ရန် တင်ဒါအောင်မြင်သည့် အဆိုပါ မြန်မာကုမ္ပဏီ ၂ ခုနှင့် စင်ကာပူနိုင်ငံရှိ Global Greeneries Pte. Ltd.တို့ ကြား ဖက်စပ်ဆောင်ရွက်ခြင်း နှင့်စပ်လျဉ်း၍ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး ဝန်ကြီးဌာနမှ ကန့်ကွက်ရန် မရှိကြောင်း နှင့် လုပ်ငန်းဆောင်ရွက် ခွင့်ပြုပါရန် ကော်မရှင်သို့ ထောက်ခံပေးပို့သည့် စာအား ပူးတွဲတင်ပြထားပါသည်။<br>- Exchange Rate အနေဖြင့် 1US$ = ၁၂၀၀ ကျပ် ဖြင့် တင်ပြထားပါသည်။ |

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊မရက-၂/ န-၁၆၆ /၂၀၁၇ (၃၀၆)
ရက်စွဲ၊ ၂၀၁၇ ခုနှစ် မတ်လ ၃၀ ရက်

## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြသည့်အမှာစာ

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Timberland Plantation Investment Company Limited မှ အကေးရှား (မန်ဂျန်ရှား)၊ အကေးရှား (အော်ရီရှား)နှင့် ယမနေသစ်များ စိုက်ပျိုး ထုတ်လုပ် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန်အဆိုပြု တင်ပြ လာခြင်းကိစ္စ**

၁။ စင်ကာပူနိုင်ငံ Global Greeneries Pte. Ltd.မှ ၆၅% နှင့် မြန်မာနိုင်ငံ Integrated Technical Systems Co., Ltd. မှ ၁၇.၅% နှင့်Nay Wun Myat Co., Ltd.မှ ၁၇.၅% အစုရှယ်ယာများ ထည့်ဝင်၍ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Timberland Plantation Investment Co., Ltd. တည်ထောင်ကာ ရောဝတီတိုင်းဒေသကြီး၊ ပုသိမ်ခရိုင်၊ ပုသိမ်မြို့နယ်၊ ကျောက်ချောင်းကြီးကြိုးဝိုင်း၊ တင်ဒါလုပ်ကွက်အမှတ် ၆၉၊ အကွက်အမှတ်-(၄၄၊ ၄၅၊ ၄၆၊ ၅၁၊ ၅၄) ၊တင်ဒါလုပ်ကွက်အမှတ် ၆၉ ရှိ မြေ ဧရိယာ (၂၇၂၇) ဧက နှင့် ရောဝတီတိုင်းဒေသကြီး၊ ပုသိမ်ခရိုင်၊ သာပေါင်းမြို့နယ်၊ ကျောက်ချောင်းကြီး ကြိုးဝိုင်း၊ အကွက်အမှတ်-(၂၇၊ ၂၈၊ ၃၀၊ ၃၁၊ ၃၂) ၊ တင်ဒါ လုပ်ကွက်အမှတ် ၇၇၊ ရှိ မြေဧရိယာ (၂၂၈၃) ဧက၊ စုစုပေါင်း မြေဧရိယာ ၅၀၁၀ ဧကကို ငှားရမ်း၍ အကေးရှား(မန်ဂျန်ရှား)၊ အကေးရှား(အော်ရီရှား) နှင့် ယမနေသစ်များ စိုက်ပျိုးထုတ်လုပ် ရောင်းချခြင်းလုပ်ငန်းအား နိုင်ငံခြားရင်းနှီး မြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီး မြှုပ်နှံမှု ကော်မရှင် သို့ အဆိုပြုတင်ပြလာပါသည်။

၂။ သစ်တော ဦးစီးဌာနနှင့် Nay Wun Myat တို့ကြား ပုဂ္ဂလိကသစ်တောစိုက်ခင်း တည်ထောင်ရန် တင်ဒါလုပ်ကွက် အမှတ် ၆၉ ရှိ သစ်တောမြေ ၂၇၂၇ ဧကအား ငှားရမ်းသည့် နှစ်ရှည် မြေငှားရမ်းခြင်း နှစ်ဘက်သဘောတူ စာချုပ် နှင့် သစ်တော ဦးစီးဌာန နှင့် Integrated Technical Systems Co.,Ltd.တို့ကြား ပုဂ္ဂလိက သစ်တောစိုက်ခင်းတည်ထောင်ရန် တင်ဒါလုပ်ကွက်အမှတ် ၇၇ ရှိ သစ်တောမြေ ၂၂၈၃ ဧကအား ငှားရမ်းသည့် နှစ်ရှည် မြေငှားရမ်းခြင်း နှစ်ဘက်သဘောတူ စာချုပ် တို့နှင့်အတူ ဖက်စပ်သဘောတူစာချုပ် (မူကြမ်း)တို့ကို တင်ပြထားပါသည်။ မြေငှားစာချုပ်ပါ အဓိက အချက်များမှာ အောက်ပါ အတိုင်းဖြစ်ပါသည်-

(က) မြေငှားစာချုပ်သက်တမ်းမှာ စာချုပ်လက်မှတ်ရေးထိုး ချုပ်ဆိုသည့် နေ့မှစ၍ ကနဦး ၃၀နှစ် ဖြစ်ပြီး တစ်ကြိမ်လျှင် ၁၀နှစ်ဖြင့် သက်တမ်း ၂ကြိမ် တိုးမြှင့်နိုင်သည်။

စာချုပ်သက်တမ်း တိုးမြှင့်လိုပါက ကနဦးသက်တမ်း မကုန်ဆုံးမီ အနည်းဆုံး ၃လ ကြိုတင်၍ စာဖြင့် အကြောင်းကြားတင်ပြရမည်။ ကနဦး၃၀နှစ် ငှားရမ်းပြီး နောက်ထပ် သက်တမ်းကာလ တိုးမြှင့် ငှားရမ်းရေးအတွက် နှစ်ဘက် ညှိနှိုင်း ဆောင်ရွက်ရမည်။ စာချုပ်သက်တမ်းတိုးမြှင့်ခြင်းသည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြ၍ အတည်ပြုချက်ရရှိမှသာ အတည်ဖြစ်စေရမည်။

(ခ) မြေငှားရမ်းခများမှာ ရောဝတီတိုင်းဒေသကြီး၊ ပုသိမ်ခရိုင်၊ ပုသိမ်မြို့နယ်၊ ကျောက်ချောင်းကြီး ကြိုးဝိုင်း၊ အကွက်အမှတ်- (၄၄၊ ၄၅၊ ၄၆၊ ၅၁၊ ၅၄) ၊ တင်ဒါလုပ်ကွက်အမှတ် ၆၉ ရှိ မြေဧရိယာ (၂၇၂၇) ဧကအတွက် တစ်ဧကလျှင် ကျပ် ၄၀၀၀ နှုန်းဖြင့် မြေငှားရမ်းခမှာ ကျပ် ၁၀.၉၀၈ သန်းနှင့် ဧရာဝတီတိုင်းဒေသကြီး၊ ပုသိမ်ခရိုင်၊ သာပေါင်းမြို့နယ်၊ ကျောက်ချောင်းကြီး ကြိုးဝိုင်း၊ အကွက် အမှတ်-(၂၇၊ ၂၈၊ ၃၀၊ ၃၁၊ ၃၂) ၊ တင်ဒါ လုပ်ကွက်အမှတ် ၇၇ ရှိ မြေဧရိယာ (၂၂၈၃) ဧကအတွက် တစ်ဧကလျှင် ကျပ် ၄၀၀၀ နှုန်းဖြင့် မြေငှားရမ်းခမှာ ကျပ် ၉.၁၃၂ သန်းဖြစ်ပါသည်။

(ဂ) မြေအသုံးချမှု ပရီမီယံကြေးမှာ တစ်ဧကလျှင် ကျပ် ၃၀၀၀၀ နှုန်းဖြင့် မြေဧရိယာ (၂၇၂၇) ဧကအတွက် ကျပ် ၈၁.၈၁၀ သန်းနှင့် မြေဧရိယာ (၂၂၈၃) ဧကအတွက် ကျပ် ၆၈.၄၉သန်းတို့ကို အငှားချထားသူထံသို့ ၃ကြိမ်ခွဲ၍ ပေးသွင်းရမည်ဖြစ်ပါသည်။ ပထမအရစ်အဖြစ် စုစုပေါင်း ပရီမီယံ၏ ၃၀% ကို သဘောတူစာချုပ် လက်မှတ် ရေးထိုးသည့် နေ့တွင်လည်းကောင်း ၊ ဒုတိယအရစ်အဖြစ် စုစုပေါင်း ပရီမီယံ၏ ၃၀% ကို သဘောတူစာချုပ် လက်မှတ်ရေးထိုးချုပ်ဆိုပြီး ၆လအတွင်း လည်းကောင်း၊ တတိယအရစ်အဖြစ် စုစုပေါင်း ပရီမီယံ၏ ၄၀% ကို သဘောတူစာချုပ် လက်မှတ် ရေးထိုးချုပ်ဆိုပြီး ၁၂ လအတွင်း လည်းကောင်း ပေးချေရမည်ဖြစ်ပါသည်။

(ဃ) အငှားချထားသည့် မြေဧရိယာ ၅၀၀၀ဧကအတွက် လုပ်ငန်းအာမခံငွေအဖြစ် တစ်ဧက လျှင် ကျပ်၅၀၀၀၀ နှုန်းဖြင့် ကျပ် ၂၅သန်းကိုအငှားချထားသူထံသို့ သဘောတူ စာချုပ် လက်မှတ် ရေးထိုးသည့်နေ့တွင် ပေးသွင်းပြီးဖြစ်ရမည် (သို့မဟုတ်) နိုင်ငံပိုင်ဘဏ်(သို့မဟုတ်) မြန်မာနိုင်ငံတော်ဗဟိုဘဏ်မှ လုပ်ငန်းပြီးမြောက်မှု အာမခံ ထုတ်ပေးရန်အတွက် အသိအမှတ်ပြုသည့် ပုဂ္ဂလိဘဏ်တစ်ခုခုတွင် အငှားချထားခြင်း ခံရသူနှင့် အငှားချထားသူတို့အကြား လုပ်ငန်းပြီးမြောက်မှု အာမခံငွေကို ကျပ်ငွေ ဖြင့် ပေးသွင်းပြီး အဆိုပါ ဘဏ်များမှ ထုတ်ပေးသည့် လုပ်ငန်းပြီးမြောက်မှု အာမခံ (Performance Guarantee) ကို အငှားချထားသူထံသို့ သဘောတူစာချုပ် လက်မှတ်ရေးထိုးသည့်နေ့တွင် ပေးပို့ ပြီးဖြစ်ရမည်။

(င) သစ်တောဦးစီးဌာနနှင့် Nay Wun Myat တို့ကြားချုပ်ဆို ထားသည့် ပုဂ္ဂလိကသစ်တော စိုက်ခင်း တည်ထောင်ရန် သစ်တောမြေအား ငှားရမ်းသည့် နှစ်ရှည်မြေငှားရမ်းခြင်း နှစ်ဘက် သဘောတူစာချုပ် အပိုဒ် ၁၃-၁(ဃ) နှင့် သစ်တော ဦးစီးဌာ နှင့် Integrated

Technical Systems Co.,Ltd.တို့ကြား ချုပ်ဆိုထားသည့် ပုဂ္ဂလိကသစ်တောစိုက်ခင်း တည်ထောင်ရန် သစ်တောမြေအား ငှားရမ်းသည့် နှစ်ရှည် မြေငှားရမ်းခြင်း နှစ်ဘက် သဘောတူစာချုပ် အပိုဒ်၁၃-၁(ဃ)တို့တွင် "ခွင့်ပြုမိန့်ဖြင့် ငှားရမ်း လုပ်ကိုင်ခွင့်ပြုထား သောမြေကို စာချုပ်သက်တမ်းကာလအတွင်း ထိုလုပ်ငန်းအတွက် အခြားပုဂ္ဂိုလ်တစ်ဦးဦး အား တစ်ဆင့်ငှားရမ်းခြင်း၊ ပေါင်နှံခြင်း၊ အစုရှယ်ယာလွှဲပြောင်းခြင်းနှင့် လုပ်ငန်း လွှဲ ပြောင်း ခြင်းတို့ကို သစ်တောဦးစီးဌာန၏ ကြိုတင်သဘောတူညီချက်ရယူ၍ မြန်မာ နိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ဖြင့် ဆောင်ရွက်ရမည်" ဟုဖော်ပြပါရှိ ပါသည်။

၃။ လုပ်ငန်းစီမံကိန်းကာလမှာ ကနဦး ၃၀ နှစ်နှင့် သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ်ဖြစ်ပါသည်။ တည်ဆောက်ရေးကာလ မှာ ၄ နှစ် ဖြစ်ပါသည်။

၄။ လုပ်ငန်း၏ စုစုပေါင်း မတည်ငွေရင်းပမာဏမှာ အမေရိကန်ဒေါ်လာ ၃.၈၀၉ သန်းဖြစ်ပြီး အောက်ပါအတိုင်း ထည့်ဝင်ထားပါသည်-

| | ပြည်တွင်း (US$ သန်း) | ပြည်ပ (US$ သန်း) | US$ သန်း<br>စုစုပေါင်း (US$ သန်း) |
|---|---|---|---|
| ငွေသား | ၀.၀၆၀ | ၀.၄၀၀ | ၀.၄၆၀ |
| စိုက်ပျိုးရေးကုန်ကျစရိတ် | ၀.၅၆၉ | ၁.၈၆၃ | ၂.၄၃၂ |
| စက်အပိုပစ္စည်း | - | ၀.၀၂၅ | ၀.၀၂၅ |
| လုပ်ငန်းသုံးယာဉ် | - | ၀.၁၄၀ | ၀.၁၄၀ |
| ရုံးသုံးပစ္စည်း | - | ၀.၀၀၆ | ၀.၀၀၆ |
| ကုန်ကြမ်း | - | ၀.၀၄၂ | ၀.၀၄၂ |
| မြေငှားရမ်းခ | ၀.၆၇၈ | - | ၀.၆၇၈ |
| အဆောက်အဦ | ၀.၀၂၆ | - | ၀.၀၂၆ |
| **စုစုပေါင်း** | **၁.၃၃၃** | **၂.၄၇၆** | **၃.၈၀၉** |

၅။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းဝန်ထမ်း(၂၈၇ )ဦး ခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ၁၁၀,၀၀၀ ကျပ်ဖြစ်ပြီးအမြင့်ဆုံးလစာ မှာ ၅၀၀,၀၀၀ ကျပ် ဖြစ်ပါသည်။

၆။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိလာသော ပစ္စည်းများကို ပြည်တွင်းတွင် ၁၀၀%ရောင်းချမည် ဖြစ်ပါသည်။ ပုံမှန်နှစ်(န၀မမြောက်နှစ်) ထုတ်လုပ်မှုနှင့်ရောင်းချမှု ဈေးနှုန်းမှာ တစ်ဖက်ပါအတိုင်း ဖြစ်ပါသည်-

| အမျိုးအစား | ထုတ်လုပ်မှု (Hoppus/Ton) | ရောင်းဈေးနှုန်း (US$/Ton) |
|---|---|---|
| အကေးရှား (မန်ဂျန်ရှား) | ၃၀၃၃၂ | ၁၅၀.၀၀ |
| အကေးရှား (အော်ရီရှား) | ၁၇၄၈ | ၁၅၀.၀၀ |
| ယမနေ | ၃၅၆၉ | ၁၅၀.၀၀ |

၇။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်(နဝမမြောက်နှစ်)တွင် ကုမ္ပဏီမှရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

**အမေရိကန်ဒေါ်လာ (သန်း)**

| | | | |
|---|---|---|---|
| (က) | ဝင်ငွေ | - | ၅.၃၅၂ |
| (ခ) | အသုံးစရိတ် | - | ၄.၀၃၃ |
| (ဂ) | အသားတင်အမြတ် | - | ၁.၃၁၉ |

၈။ ဤလုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ (နဝမမြောက်နှစ်)တွင်ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် အမေရိကန်ဒေါ်လာ ၀.၄၃၉ သန်းဖြစ်ပြီး ကုန်သွယ်လုပ်ငန်းခွန် အမေရိကန်ဒေါ်လာ ၁.၃၃၈ သန်း ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ ၈ နှစ် ၅လ ဖြစ်ပြီး အရင်းအနှီး ပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း(IRR)မှာ ၁၈.၇၃% ဖြစ်ပါသည်။

၉။ အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ ရေဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့၊ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာန၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာန၊ ရင်းနှီးမြှုပ်နှံမှုဌာန ဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့၊ စိုက်ပျိုးရေး၊ မွေးမြူရေး နှင့် ဆည်မြောင်းဝန်ကြီးဌာနတို့သို့ သဘောထား မှတ်ချက်များ တောင်းခံခဲ့ရာ အောက်ပါအတိုင်း သဘောထား ပြန်ကြား လာပါသည်-

(က) **ရေဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့** မှ ကုမ္ပဏီအနေဖြင့် မိမိတို့၏ သစ်တောစိုက်ခင်းများ ထူထောင်မည့် စီမံကိန်း၊ စီမံချက်များနှင့်အတူ သဘာဝသယံဇာတများကို မျှမျှတတ ခွဲဝေအသုံးပြုရေး၊ ဒေသဖွံ့ဖြိုးတိုးတက်ရေးကို ရှေးရှု၍ သစ်တောဦးစီးဌာန ၏ စီမံခန့်ခွဲမှုဖြင့် ဆောင်ရွက်နေသော ဒေသခံပြည်သူ အစုအဖွဲ့ပိုင်သစ်တောများ (Community Forests)ထူထောင်ရေးနှင့် သီးနှံသစ်တော(Agro-Forestry)စိုက်ပျိုးရေး လုပ်ငန်းများအတွက် နည်းပညာ၊ မျိုးစေ့၊ မျိုးကိုင်း၊ ပျိုးပင်များကူညီပံ့ပိုးပေးရေးတို့ကိုပါ လူမှုရေးဆိုင်ရာတာဝန်ခံမှု (CSR) နည်းလမ်းများနှင့်အညီ အကောင်အထည်ဖော် ဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားပြန်ကြားထားပါသည်။

**(နောက်ဆက်တွဲ - က)**

(ခ) **သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာန** မှ သစ်တောဦးစီးဌာနနှင့် Integrated Technical Systems Co., Ltd.၊ နေဝန်းမြတ် ကုမ္ပဏီတို့

အကြား ချုပ်ဆိုသည့် ပုဂ္ဂလိက သစ်တောစိုက်ခင်း တည်ထောင်ရန် သစ်တောနယ်မြေ အတွင်းရှိမြေအား နှစ်ရှည်ငှားရမ်းခြင်း နှစ်ဘက်သဘောတူစာချုပ်နှင့် တင်ဒါအောင်မြင်ထားသည့် သစ်တောမြေရှိ သစ်တောစိုက်ခင်းကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ဖက်စပ်ဆောင်ရွက်ခြင်းကို သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီး ဌာန၊ ပြည်ထောင်စုဝန်ကြီးရုံးမှ ကန့်ကွက်ရန် မရှိပါကြောင်း၊ အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာတာဝန်ခံ ဆောင်ရွက်မှု (Corporate Social Responsibility - CSR) အတွက် အသားတင်အမြတ်ငွေ၏ (၂)ရာခိုင်နှုန်း အသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များအား တိတိကျကျ လိုက်နာအကောင်အထည်ဖော် ဆောင်ရွက်ရန်လိုကြောင်း၊အဆိုပြုလုပ်ငန်းကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှုမရှိစေရေး (သို့မဟုတ်) ထိခိုက်မှု အနည်းဆုံးဖြစ်စေရေးအတွက် **ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)**ကို ဆောင်ရွက်ပြီး ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ အစီရင်ခံစာရေးဆွဲတင်ပြရန် လိုအပ်ကြောင်း၊ အထက်ပါလေ့လာဆန်းစစ်မှု ရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ်၊ စွန့်ပစ်ပစ္စည်း၊ စွန့်ပစ်အရည် စီမံခန့်ခွဲမှု အစီအစဉ်၊ စောင့်ကြပ်ကြည့်ရှု စစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါး စေရေးဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP) အား ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်လိုအပ်ကြောင်း၊သဘောထားပြန်ကြားထားပါသည်။ **(နောက်ဆက်တွဲ-ခ၊ဂ)** **(ကုမ္ပဏီမှ ပတ်ဝန်းကျင်ထိခိုက်မှု (EIA)နှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှုအစီအစဉ် (EMP) တို့ကို ဆောင်ရွက်သွားမည် ဖြစ်ကြောင်း တင်ပြထားပါ သည်။)**

၁၀။ ငွေကြေးအထောက်အထား အဖြစ် စင်္ကာပူနိုင်ငံ Oversea-Chinese Banking Corporation Limited Bank တွင် Global Greeneries Pte. Ltd. အမည်ဖြင့် ၂၃-၁၁-၂၀၁၆ ရက်နေ့တွင် US$ ၇၀၇,၇၆၇.၄၉၊ ရောဝတီဘဏ်တွင် Nay Wun Myat Co.,Ltd. အမည်ဖြင့် ၂၂-၁၂-၂၀၁၆ ရက်နေ့ရက်စွဲဖြင့် ကျပ် ၅,၀၀၆,၈၇၅၊ကမ္ဘောဇဘဏ်တွင် Integrated Technical Systems Co.,Ltd. အမည်ဖြင့် ၄-၁၁-၂၀၁၆ရက်စွဲဖြင့် ကျပ် ၂၇၄၆၆၃၅၀၀ ရှိကြောင်း တင်ပြ ထားပါသည်။ ဒါရိုက်တာအဖွဲ့ဝင်များ၏ Passport မိတ္တူများနှင့် နိုင်ငံသားမှတ်ပုံတင် မိတ္တူများကို တင်ပြထားပါသည်။

၁၀။ Timberland Plantation Investment Co., Ltd. မှ စီမံကိန်းဧရိယာတည်နေရာပြမြေပုံနှင့် Layout Plan များနှင့် လက်ရှိစိုက်ပျိုးထားရှိမှုအခြေအနေ၊ မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်၊ လုပ်ငန်းခွင်သာယာရေးနှင့်ဝန်ထမ်း သက်သာချောင်ချိရေးစီမံချက်၊ ပတ်ဝန်းကျင် ထိန်းသိမ်းစောင့်ရှောက်မည်ဖြစ်ကြောင်း ကတိဝန်ခံချက်၊ အလုပ်သမားများ လစာအပေါ် ဝင်ငွေခွန်ပေးဆောင်မည် ဖြစ်ကြောင်း ဝန်ခံကတိပြုစာ၊ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာ ခွင့်များလျှောက်ထားချက်နှင့်CSR ဆောင်ရွက်မည့် အစီအစဉ် တို့ကိုတင်ပြထားပါသည်။

၁၂။ Timberland Plantation Investment Co., Ltd. မှ နှစ်စဉ် အသားတင်အမြတ်ငွေ၏ ၂%ကို Corporate Social Responsibility အဖြစ် အသုံးပြုမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၃။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေပါ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုပါရန် တင်ပြထားပါသည်။

၁၄။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၆ ခုနှစ် ဩဂုတ်လ ၁၅ ရက်နေ့တွင် ကျင်းပသော ၃၀/၂၀၁၆ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၁၅။ **စိစစ်တင်ပြချက်**

(က) အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၆ ခုနှစ် ဒီဇင်ဘာလ ၂၆ ရက်နေ့တွင် ကျင်းပသော ၃၈/၂၀၁၆ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

(ခ) ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့် ဥပဒေရေးရာဌာနခွဲမှ ကော်မရှင်ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေနှင့်ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၆။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Timberland Plantation Investment Company Limited မှ အကေးရှား (မန်ဂျန်ရှား)၊ အကေးရှား (အော်ရီရှား) နှင့် ယမနေသစ်များ စိုက်ပျိုး ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြလာခြင်းအပေါ် ခွင့်ပြုရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို

ရုံးလက်ခံ/မျှောစာတွဲ

# ကုမ္ပဏီဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/ အစုရှင်များ၏ အမည် | ဒါရိုက်တာ/ အစုရှင်များ၏ ဆက်သွယ်ရန် လိပ်စာ |
|---|---|---|---|
| ၁။ | Timberland Plantation Investment Co., Ltd. | Nay Wun Myat Co.,Ltd.<br>U Zaw Win<br>Director<br>Myanmar<br>NRC No.1/Ba Ma Na (Naing) 035861 | No.42, Pyin Nyar Tan Saung Road, Ward No(43), North-Dagon Myo Thit Township, Yangon |
| | | Integrated Technical System Co., Ltd.<br>Daw Sandar Aung<br>Director<br>Myanmar<br>NRC No.12/Ya Ka Na(N) 019852 | No-124, Room-2, Yan Naing lane (4), Yankin Township, Yangon |
| | | Global Greeneries Pte., Ltd<br>Mr. Chourdia Puranmal Tarachandji<br>Director<br>Singapore<br>P.P No.-S2651395B | 1 Farrer Road, #05-01, Tulip Garden, Singapore (268817) |
| | | Mr. Devchand Shikharchand Chodhry<br>Director<br>Singapore<br>P.P No.-Z3698175 | 1 Farrer Road, #05-01, Tulip Garden, Singapore (268817) |

| | | |
|---|---|---|
| ၁။ | ဆက်သွယ်ရမည့် တယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် | - ၀၉- ၂၅၀၆၇၂၀၂၉ |
| ၂။ | ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ | - အမှတ်-၁၂၄၊ အခန်း-၂၊ ရန်နိုင်လမ်း (၄)၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့ |
| ၃။ | ဆက်သွယ်ရမည့် ပုဂ္ဂိုလ်အမည်၊ ရာထူး | - ဒေါ်စန္ဒာအောင်<br>ဒါရိုက်တာ |

| | | | |
|---|---|---|---|
| ၄။ | ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့် လုပ်ငန်းများ | - | အကေးရှား (မန်ဂျန်ရှား)၊ အကေးရှား (အော်ရီရှား) နှင့် ယမနေသစ်များ စိုက်ပျိုး ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း |
| ၅။ | ကုမ္ပဏီမှတ်ပုံတင်အမှတ်/ နေ့စွဲ | - | - |
| ၆။ | ကုမ္ပဏီမှတ်ပုံတင်ကုန်ဆုံးသည့်နေ့စွဲ | - | - |
| ၇။ | ဘဏ်အမည်နှင့် ဘဏ်စာရင်းအမှတ် | - | - |

နောက်ဆက်တွဲ(က)

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**တိုင်းဒေသကြီးအစိုးရအဖွဲ့**
**ဧရာဝတီတိုင်းဒေသကြီး**



စာအမှတ်၊ ၄၀၀/ ၄ - ၈( ၂ )/အစိုးရ(ဧရာဝတီ) (၈/၂၀၁၇)
ရက် စွဲ၊ ၂၀၁၇ ခုနှစ်၊ မတ်လ ၂၀ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ် (၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်လည်တင်ပြခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၃၀.၁၂.၂၀၁၆)ရက်စွဲပါစာအမှတ်၊ မရက - ၂ / န - ၁၆၆/ ၂၀၁၆ (၉၇၆)

၁။ စင်္ကာပူနိုင်ငံ Global Greeneries Pte Co.,Ltd မှ (၆၅)ရာခိုင်နှုန်း၊ မြန်မာနိုင်ငံ Integrated Technical Systems Co.,Ltd မှ (၁၇.၅)ရာခိုင်နှုန်းနှင့် Nay Wun Myat Co.,Ltd မှ (၁၇.၅)ရာခိုင်နှုန်း အစုရှယ်ယာများထည့်ဝင်၍ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Timberland Plantation Investment Co.,Ltd တည်ထောင်ကာ ဧရာဝတီတိုင်းဒေသကြီး၊ ပုသိမ်ခရိုင်၊ ပုသိမ်မြို့နယ်၊ ကျောက်ချောင်းကြီးကြိုးဝိုင်း၊ တင်ဒါလုပ်ကွက် အမှတ် (၆၉)ရှိ မြေဧရိယာ (၂၇၂၇)ဧကနှင့် သာပေါင်းမြို့နယ်၊ ကျောက်ချောင်းကြီးကြိုးဝိုင်း၊ တင်ဒါလုပ်ကွက်အမှတ် (၇၇)ရှိ မြေဧရိယာ (၂၂၈၃)ဧက၊ စုစုပေါင်းမြေဧရိယာ (၅၀၁၀)ဧကကို ငှားရမ်း၍ အကေးရှား (မန်ဂျန်ရှား)၊ အကေးရှား(အော်ရီရှား)နှင့် ယမနေသစ်များ စိုက်ပျိုးထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်ပတ်သက်၍ သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် သဘောထားတောင်းခံလာပါသည်။

၂။ အဆိုပါကိစ္စနှင့်ပတ်သက်၍ (၉/၁၀.၃.၂၀၁၇)ရက်နေ့များတွင် ကျင်းပပြုလုပ်သည့် ဧရာဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၈/၂၀၁၇)တွင် တင်ပြဆွေးနွေးခဲ့ရာ ဆုံးဖြတ်ချက် (၁၀)အရ **ကုမ္ပဏီများအနေဖြင့် မိမိတို့၏ သစ်တောစိုက်ခင်းများ ထူထောင်မည့် စီမံကိန်း၊ စီမံချက်များနှင့်အတူ သဘာဝသယံဇာတများကို မျှမျှတတခွဲဝေအသုံးပြုရေး၊ ဒေသဖွံ့ဖြိုးတိုးတက်ရေးကို ရှေးရှု၍ သစ်တောဦးစီးဌာန၏ စီမံခန့်ခွဲမှုဖြင့် ဆောင်ရွက်နေသော ဒေသခံပြည်သူ အစုအဖွဲ့ပိုင်သစ်တောများ (Community Forests) ထူထောင်ရေးနှင့် သီးနှံသစ်တော (Agro-Forestry) စိုက်ပျိုးရေးလုပ်ငန်းများအတွက် နည်းပညာ၊ မျိုးစေ့၊ မျိုးကိုင်း၊ ပျိုးပင်များ**

**ကူညီပံ့ပိုးပေးရေးတို့ကိုပါ လူမှုရေးဆိုင်ရာ တာဝန်ခံမှု (CSR) နည်းလမ်းများနှင့်အညီ အကောင်အထည်ဖော်ဆောင်ရွက်ပါက သဘောတူကြောင်း** ဆုံးဖြတ်ခဲ့ပါသဖြင့် အောက်ဖော်ပြပါအချက်များအား လိုအပ်သလို ဆက်လက်ဆောင်ရွက်နိုင်ပါရန် သဘောထားပေးပို့တင်ပြအပ်ပါသည် -

(က) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်ခြင်း ရှိ/မရှိ။**

ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် ဧရာဝတီတိုင်းဒေသကြီး၊ ပုသိမ်ခရိုင်၊ ပုသိမ်မြို့နယ်၊ ကျောက်ချောင်းကြီးကြိုးဝိုင်း၊ တင်ဒါလုပ်ကွက် အမှတ် (၆၉)ရှိ မြေဧရိယာ (၂၇၂၇)ဧကနှင့် သာပေါင်းမြို့နယ်၊ ကျောက်ချောင်းကြီးကြိုးဝိုင်း၊ တင်ဒါလုပ်ကွက်အမှတ် (၇၇)ရှိ မြေဧရိယာ (၂၂၈၃)ဧက၊ စုစုပေါင်းမြေဧရိယာ (၅၀၁၀)ဧကသည် နောင်ပြုလုပ်မည့် (သို့) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်ခြင်း မရှိပါကြောင်း ထောက်ခံအပ်ပါသည်။

(ခ) **မြို့နယ်ဒေသ အလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူ ဖြစ်/မဖြစ်။**

Timberland Plantation Investment Co.,Ltd ၏ ယခုအဆိုပြုလာသည့် လုပ်ငန်းပြုလုပ်သည့်အတွက် ဒေသခံပြည်သူများ အလုပ်အကိုင်၊ အခွင့်အလမ်းနှင့် ဒေသစီးပွားရေးဖွံ့ဖြိုး တိုးတက်မှုအတွက် အထောက်အကူဖြစ်စေနိုင်ပါကြောင်း ထောက်ခံအပ်ပါသည်။

(ဂ) **ဖော်ပြပါမြေနေရာအား စက်ရုံအတွက် သုံးစွဲခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်း ရှိ/မရှိ။**

အဆိုပြုလျှောက်ထားလာသည့် Timberland Plantation Investment Co.,Ltd ၏ လုပ်ငန်းများဆောင်ရွက်ခြင်းဖြင့် ဒေသခံများ၏ လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ ထိခိုက်နိုင်ခြင်းမရှိပါကြောင်း ထောက်ခံအပ်ပါသည်။

(ဃ) **လုပ်ငန်းဆောင်ရွက်မည့် မြေနေရာ ဟုတ်/မဟုတ်။**

အဆိုပြုတင်ပြထားသည့် မြေနေရာသည် Timberland Plantation Investment Co.,Ltd ၏ လုပ်ငန်းဆောင်ရွက်ရန်အတွက် သင့်တော်သည့် မြေနေရာဖြစ်ပါကြောင်း ထောက်ခံအပ်ပါသည်။

(င) **ဧရာဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့၏ အကြံပြုချက်**

ဖော်ပြပါလုပ်ငန်းပြုလုပ်မည့် ကုမ္ပဏီများအနေဖြင့် မိမိတို့၏ သစ်တော စိုက်ခင်းများထူထောင်မည့် စီမံကိန်း၊ စီမံချက်များနှင့်အတူ သဘာဝ သယံဇာတများကို မျှမျှတတခွဲဝေအသုံးပြုရေး၊ ဒေသဖွံ့ဖြိုးတိုးတက်ရေးကို ရှေးရှု၍ သစ်တောဦးစီးဌာန၏ စီမံခန့်ခွဲမှုဖြင့် ဆောင်ရွက်နေသော ဒေသခံ ပြည်သူ အစုအဖွဲ့ပိုင်သစ်တောများ (Community Forests)ထူထောင်ရေးနှင့် သီးနှံသစ်တော (Agro-Forestry)စိုက်ပျိုးရေးလုပ်ငန်းများအတွက် နည်းပညာ၊ မျိုးစေ့၊ မျိုးကိုင်း၊ ပျိုးပင်များ ကူညီပံ့ပိုးပေးရေးတို့ကိုပါ လူမှုရေးဆိုင်ရာ တာဝန်ခံမှု (CSR)နည်းလမ်းများနှင့်အညီ အကောင်အထည်ဖော် ဆောင်ရွက် ပါကသင့်သောတူကြောင်း ဧရာဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့အနေဖြင့် အကြံပြု အပ်ပါသည်။

၁၀.၃.၁၃

ဝန်ကြီးချုပ် (သန်းဆွေဝင်း)
(သန်းဆွေဝင်း ၊ အတွင်းရေးမှူး)

မိတ္တူကို

ညွှန်ကြားရေးမှူး၊ ဧရာဝတီတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှု ဦးစီးဌာန၊ ပုသိမ်မြို့
Timberland Plantation Investment Co.,Ltd
လုည့်လည်စာတွဲ
ရုံးလက်ခံ

နောက်ဆက်တွဲ(ခ)



mic1 017
17/1

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊၀၀၁/ MIC(OSS) /၀၁( ၂၂ /၁၇)
ရက်စွဲ၊ ၂၀၁၇ ခုနှစ် ဇန်နဝါရီလ ၁၆ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Timberland Plantation Investment Co., Ltd. မှ အကေးရှား (မန်ဂျန်ရှား)၊ အကေးရှား (အော်ရီရှား) နှင့် ယမနေသစ်များ စိုက်ပျိုးထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍ သဘောထား မှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၃၀-၁၂-၂၀၁၆ ရက်စွဲပါ စာအမှတ်၊ မရက-၂/ န-၁၆၆/ ၂၀၁၆(၉၇၅)

၁။ စင်္ကာပူနိုင်ငံ Global Greeneries Pte. Ltd. မှ ၆၅% နှင့် မြန်မာနိုင်ငံ Intergrated Technical Systems Co., Ltd မှ ၁၇.၅% နှင့် Nay Wun Myat Co., Ltd. မှ ၁၇.၅% အစုရှယ်ယာများ အသီးသီး ထည့်ဝင်၍ မြန်မာနိုင်ငံတွင် Timberland Plantation Investment Co., Ltd. တည်ထောင်ကာ ဖက်စပ် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် ဧရာဝတီတိုင်းဒေသကြီး၊ ပုသိမ်ခရိုင်၊ ပုသိမ်မြို့နယ်၊ ကျောက်ချောင်းကြီး ကြိုးဝိုင်း၊ တင်ဒါလုပ်ကွက်အမှတ် ၆၉ ရှိ မြေဧရိယာ ၂၇၂၇ ဧကနှင့် ဧရာဝတီတိုင်းဒေသကြီး၊ ပုသိမ်ခရိုင်၊ သာပေါင်းမြို့နယ်၊ ကျောက်ချောင်းကြီးကြိုးဝိုင်း၊ တင်ဒါလုပ်ကွက်အမှတ်- ၇၇ ရှိ မြေဧရိယာ ၂၂၈၃ ဧက၊ စုစုပေါင်း မြေဧရိယာ ၅၀၁၀ ဧက (၂၀၂၇၄၇၅၀.၆၆၄ စတုရန်းမီတာ) ကို ငှားရမ်း၍ အကေးရှား (မန် ဂျန်ရှား)၊ အကေးရှား (အော်ရီရှား) နှင့် ယမနေ သစ်များ စိုက်ပျိုးထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းကို နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်စပ်လျဉ်း၍ စိစစ်ပြီး သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာ အဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါအချက် များ လေ့လာတွေ့ရှိရပါသည်-

(က) ကနဦးရင်းနှီးမြှုပ်နှံမှုကာလမှာ (၃၀) နှစ်ဖြစ်ပြီး၊ သက်တမ်းတိုးခြင်းအား (၁၀) နှစ် (၂) ကြိမ်ဆောင်ရွက်မည်ဖြစ်ပြီး လုပ်ငန်းတည်ဆောက်မည့်ကာလမှာ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံ မှုကော်မရှင်မှ ခွင့်ပြုချက်ရရှိပြီး (၁) နှစ် အတွင်းဆောင်ရွက်မည် ဖြစ်ကြောင်း၊

(ခ) စိုက်ခင်းတည်ထောင်ရာတွင် ကနဦး ပထမနှစ်တွင် ဧက ၂၀၀၀ နှင့် နောင် (၃) အတွင်း (၁) နှစ် လျှင် ဧက ၁၀၀၀ နှုန်းဖြင့် ဧက ၅၀၁၀ ပြည့်အောင်စိုက်ပျိုးမည် ဖြစ်ကြောင်း၊

(ဂ) သစ်တောဦးစီးဌာနနှင့် Intergrated Technical System Co., Ltd.၊ နေဝန်းမြတ်ကုမ္ပဏီတို့အကြား ချုပ်ဆိုသည့် ပုဂ္ဂလိက သစ်တောစိုက်ခင်းတည်ထောင်ရန် သစ်တောနယ်မြေအတွင်းရှိ မြေအား နှစ်ရှည်ငှားရမ်းခြင်း နှစ်ဘက်သဘောတူစာချုပ်နှင့် တင်ဒါအောင်မြင်ထားသည့် သစ်တောမြေရှိ သစ်တောစိုက်ခင်းကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ဖက်စပ်ဆောင်ရွက်ခြင်းကို သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး ဝန်ကြီးဌာန၊ ပြည်ထောင်စုဝန်ကြီးရုံးမှ ကန့်ကွက်ရန်မရှိကြောင်း၊

(ဃ) အဆိုပြုစီမံကိန်းဧရိယာအတွင်း စိုက်ပျိုးသွားမည့် စီမံချက်နှင့် Global Greeneries Pte. Ltd.၊ Intergrated Technical Systems Co., Ltd.၊ Nay Wun Myat Co., Ltd. Joint တို့မှ Venture Agreement ဖြင့် ပူးပေါင်းဆောင်ရွက်မည်ဖြစ်ကြောင်း၊

(င) ဝန်ထမ်းများအတွက် သက်သာချောင်ချိရေးအစီအစဉ်၊ သစ်တောစိုက်ခင်း တည်ထောင်ရာတွင် မီးဘေးကာကွယ်ရေး အစီအမံများကို စီမံချက်ချမှတ်၍ ထည့်သွင်းဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(စ) လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility - CSR) အနေဖြင့် လုပ်ငန်းမှရရှိလာမည့် အသားတင် အမြတ်ငွေ၏ (၂) ရာခိုင်နှုန်းကိုထည့်သွင်းအသုံးပြုသွားမည်ဖြစ်ပြီး ဝန်ထမ်းများအား လုပ်ငန်းခွင်သင်တန်းများ ပို့ချခြင်းဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊

(ဆ) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် စပ်လျဉ်း၍ ကနဦးပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း(Initial Environmental Examination-IEE) နှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP) တို့ကို တစ်ပါးတည်း တင်ပြပါကြောင်း ဖော်ပြပါရှိပါသည်။

၃။ လုပ်ငန်းလည်ပတ်ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ သစ်တောဦးစီးဌာန၏ စိစစ်သုံးသပ်မှုနှင့် အကြံပြုချက်များအရ အောက်ဖော်ပြပါကိစ္စရပ်များကို လိုက်နာဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါသည် -

(က) Timberland Plantation Investment Co., Ltd. မှ အကေးရှား (မန်ဂျန်ရှား)၊ အကေးရှား(အော်ရီရှား)နှင့် ယမနေသစ်များ စိုက်ပျိုးထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းနှင့် စပ်လျဉ်း၍သစ်တော ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ ဆောင်ရွက်ရန် လိုအပ်မည် ဖြစ်ကြောင်း၊

(ခ) စိုက်ပျိုးမည့် သစ်မျိုးများနှင့် စပ်လျဉ်း၍ မိုးများသည့် ဒေသတွင်စိုက်ပျိုးဖြစ်ထွန်းသည့် သစ်မျိုးများဖြစ်ပြီး ပြည်တွင်းတွင်လည်း မျိုးစေ့များဝယ်ယူနိုင်မည်ဖြစ်ပါကြောင်း၊

(ဂ) ခုတ်ပတ်ပြည့်၍ ထုတ်ယူရောင်းချမည့် သစ်များကို ပြည်တွင်းသို့ (သို့မဟုတ်) ပြည်ပသို့ ရောင်းချမည့် အစီအစဉ်ကို ရှင်းလင်းစွာဖော်ပြစေလိုပါကြောင်း၊

၄။ လုပ်ငန်းလည်ပတ်ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုများဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည်-

(က) သစ်များ စိုက်ပျိုးရန်အတွက် မြေပြုပြင်ခြင်းဆောင်ရွက်ရာ၌ ချုံများကိုခုတ်ထွင်၍ မီးရှို့ရှင်းလင်းခြင်းကြောင့် မြေဆီလွှာအရည်အသွေး ကျဆင်းလာနိုင်ခြင်း၊

(ခ) သစ်ပင်၊ သစ်တောများပြုန်းတီးခြင်း၊ တောရိုင်းတိရစ္ဆာန်တို့၏ နေထိုင်ကျက်စားရာ နေရာများပျက်စီးဆုံးရှုံးခြင်းတို့ကြောင့် ဇီဝမျိုးစုံမျိုးကွဲများ လျော့နည်းပျောက်ကွယ်နိုင်ခြင်း၊

(ဂ) ဓာတုဓာတ်မြေသြဇာနှင့် ပိုးသတ်ဆေးများကို အလွန်အကျွံသုံးစွဲပါက မြေဆီလွှာ၏ အရည်အသွေးကို ယိုယွင်းပျက်စီးစေနိုင်ခြင်း၊ တောမီးလောင် ကျွမ်းခြင်း၊ လေထုညစ်ညမ်းမှု ဖြစ်ပေါ်စေနိုင်ခြင်းစသည့် ပတ်ဝန်းကျင်ထိခိုက်မှုပြဿနာများ ဖြစ်ပေါ်လာနိုင်ပါသည်။

၅။ သို့ဖြစ်ပါ၍ Timberland Plantation Investment Co., Ltd. မှ အကေးရှား (မန်ကျန်းရှား)၊ အကေးရှား (အော်ရီရှား) နှင့် ယမနေသစ်များ စိုက်ပျိုးထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဆောင်ရွက်ရမည့်လုပ်ငန်းများကို အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြား အပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များကိုအသုံးပြုရန်နှင့် အဆိုပြုလွှာတွင်ဖော်ပြထားသည့် လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility - CSR) အတွက် အသားတင်အမြတ်ငွေ၏ (၂) ရာခိုင်နှုန်း အသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့်ကတိကဝတ်များအား တိတိကျကျလိုက်နာ အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ခ) အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေးမထိခိုက်စေရေး (သို့မဟုတ်) ထိခိုက်မှု အနည်းဆုံးဖြစ်စေရေးတို့အတွက် **ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)** ကို ဆောင်ရွက်ပြီး ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ အစီရင်ခံစာရေးဆွဲတင်ပြရန်။

(ဂ) အထက်ပါလေ့လာဆန်းစစ်မှု ရလဒ်များကိုအခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေးဆောင်ရွက်မည့် လုပ်ငန်းများအတွက်သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan - EMP)** အား ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ဃ) စီမံကိန်းဆောင်ရွက်မည့်သူများအနေဖြင့် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းနှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီစဉ်များ၊ အစီရင်ခံစာများရေးသားပြုစုရာတွင် ပြဋ္ဌာန်း ထုတ်ပြန်ထားပြီးဖြစ်သော ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင် ဖော်ပြပါရှိသည့် လိုက်နာ ဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့် အညီ လိုက်နာဆောင်ရွက်ရန်၊

(င) သက်ဆိုင်ရာတိုင်းဒေသကြီး အစိုးရအဖွဲ့၏ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့် နေရာဒေသတွင် နေထိုင်သော ဒေသခံပြည်သူများ၏ ဆန္ဒနှင့်သဘောထားများကိုလည်း ရယူဆောင်ရွက်ရန်။

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

**မိတ္တူကို**

ပြည်ထောင်စုဝန်ကြီးရုံး

သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး

ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ဧရာဝတီတိုင်းဒေသကြီး

ရုံးလက်ခံ